# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၁၇၁../၂၀၀၃။ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီ လ ၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...ဦးဆောင်မျိုး...

(ခ) အဘအမည် ...ဦးဆောင်း...

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ...၉/ဝတန(နိုင်)၀၁၀၇၄၄...

(ဃ) နေရပ်လိပ်စာ ...အမှတ်(အီး-၉၂)၊ အက်(၆)အမ်ဆိုင်တီးတီး...
လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...အင်ဇလီသီတာ ကုမ္ပဏီ လီမိတက်...
(Inzali Thidar Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...CMP စနစ်ဖြင့်နိုင်ငံတကာအဆင့်မီ
အဝတ်အထည်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ...ရန်ကုန်တိုင်း၊ မြို့သစ်ဥက္ကလာပမြို့နယ်၊
ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၉/၁) မြေကွက်အမှတ်
(၃၁၄၊၃၁၅)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ...(၇၉.၀၀)သိန်း (ကျပ်ခုနှစ်ဆယ်ကိုးသိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အမိန့် ကြော်ငြာစာအမှတ်၊ ၉ /၂၀၀၃ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၄ ခုနှစ်၊ ပြာသိုလဆန်း ( ၅ ) ရက်

(၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော အဉ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) သည် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးအောင်မျိုး အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၉/၁)၊ မြေကွက်အမှတ် (၃၁၄၊၃၁၅)ရှိ မြေ (၀.၆၈၄)ဧက (၂၇၆၈.၀၅ စတုရန်းမီတာ) တွင် ဆောင်ရွက်လျက် ရှိသော CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။ ယင်းလုပ်ငန်းမှာ မူလက ကော်မရှင် ခွင့်ပြုမိန့်ဖြင့် မဟုတ်ပဲ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေး ကော်မတီမှ တစ်ဆင့် စိစစ်ပြီး တင်ပြလာပါ၍ (၁၃-၉-၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၁/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃-၁၀-၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏(၂၅/၂၀၀၂)အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ ယင်း အစည်းအဝေးမှ သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၆-၁၂-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၇/၂၀၀၂) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အဉ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) အား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၇၁/၂၀၀၃ ကို ထုတ်ပေး လိုက်သည်။

၂။ အဉ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင် ခွင့်ပြုသည့် (၇-၁-၂၀၀၃)နေ့မှ အစပြု၍ တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက် နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ် သည့် နှုန်း အတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက် ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အင်ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ်ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ အင်ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) သည် လုပ်ငန်းဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်/ မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ မိမိ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းစေရမည်။ အလုပ်သမားများအတွက် လုပ်အားခပေးရန် ပြန်လည်ထုတ်ယူသည့် FEC များကို သတ်မှတ်ခွင့်ပြုထားသည့် MONEY CHANGER များ တွင်သာ လဲလှယ်ပြီး မိမိတို့၏ အလုပ်သမား လုပ်ခလစာများ ပေးရန်ဖြစ်သည်။

၆။ အင်ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၇။ အဥ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) ၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် ဦးအောင်မျိုး၏ အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည်ဖြစ်ရာ ကုမ္ပဏီ ၏ အစုရှယ်ယာကိစ္စများ ဆောင်ရွက်ပြီးစီးသည့်အချိန်တွင် အဆိုပါ မြေကွက်အား အဥ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) ၏ အမည်ပေါက် ဖြစ်စေရေးအတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနသို့ လျှောက်ထား ဆောင်ရွက် ရမည်။ ဂရန်ရရှိပါက ဂရန်မိတ္တူ (၅)စောင်ကို ဤ ကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ် သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၀။ အဥ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ် စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့် အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ အဥ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လ များ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၂။ အဥ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) သည် အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ကို တစ်လ အတွင်း ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို ဆက်လက် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၄။ အဥ္ဇလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူ ခြင်း ခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေ ရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောက်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

( ဦးသောင်း )
ဥက္ကဌ

စာအမှတ်၊ ရက-၁/မ-၈၅၇/၂၀၀၂ (၄၁၂၆-၁၂)
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော် ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်း ထောက်လှမ်းရေး ဌာန)။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဌ၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ။ (အမှတ်(၁) စက်မှု ဝန်ကြီးဌာန)
၁၅။ ဥက္ကဌ၊ နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၆။ ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၉။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၃၀။ မန်နေးဂျင်း ဒါရိုက်တာ၊ အဥ္စလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd)။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၃၁/၂၀၀၂ (၃၇၇၆-က)
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ အဥ္စလီသီတာ ကုမ္ပဏီ လီမိတက် မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အဥ္စလီသီတာ ကုမ္ပဏီ လီမိတက် (Inzali Thidar Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ အဆိုပါ တင်ပြချက်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၃-၉-၂၀၀၂)နေ့ တွင် ကျင်းပခဲ့သည့် (၃၁/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ မူအားဖြင့် သဘောတူသဖြင့် ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ (၃-၁၀-၂၀၀၂) နေ့ တွင် ကျင်းပခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၅/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၇၉,၀၀)သိန်း ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူခဲ့ကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ဦးအောင်မျိုး အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေတိုင်းရပ်ကွက် (၁၉/၁)၊ မြေကွက်အမှတ် (၃၁၄၊၃၁၅)၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၀.၆၈၄)ဧက (၂၇၆၈.၀၅ စတုရန်း မီတာ) တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းအား CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန် ပယ်ထည် (Reject) (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) |
|---|---|---|
| ၁။ | T-Shirt | ၆၈၀၀၀ |
| ၂။ | Jacket | ၃၄၀၀၀ |
| ၃။ | Pants | ၁၇၀၀၀ |

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၁၀)လဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန် ပေါ်နှုန်း (IRR)မှာ (၁၅.၈၉) ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် — ကျပ် ၁.၈၄ သန်း

အမေရိကန်ဒေါ်လာ ၀.၁၁ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၁.၇၆ သန်း

၇။ လုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၄၀၀)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ အဆိုပြုလုပ်ငန်းသည် လုပ်ငန်းသစ်မဟုတ်ဘဲ တည်ဆောက်ပြီး လည်ပတ်နေသော စက်ရုံဖြစ်၍ လျှပ်စစ်ဓါတ်အား ရရှိသုံးစွဲလျက်ရှိ ပြီး ဆက်လက်၍ ဓါတ်အားပေးနိုင်ပါကြောင်းပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ CMP ချုပ်ခရငွေများနှင့် ပတ် သက်၍ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၁၀။ ယင်းကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်း လွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) အဥ္စလီသီတာ ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက် ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရာတွင် CMP လက်ခစား လုပ်ငန်းများ စိစစ်ရေး ကော်မတီမှ ထောက်ခံတင်ပြသည့် အလားတူလုပ်ငန်း များနည်းတူ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တရားဝင် ခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့ ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/CMP/၂၀၀၂ (၂၅၆၀ )။
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ စက်တင်ဘာလ ၁၉ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ ။ လက်ခစား (CMP) စနစ်ဖြင့် ဆောင်ရွက်လျှက်ရှိသော လုပ်ငန်းများအား ကော်မရှင်၏ ခွင့်ပြုမိန့်ရရှိရေးအတွက် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေး ကော်မတီမှ တစ်ဆင့် တင်ပြလာခြင်းကိစ္စ။

၁။ အထက် အဖွဲ့အစည်း၏ လမ်းညွှန်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် မဟုတ်ဘဲ ဆောင်ရွက်လျှက်ရှိသော CMP လုပ်ငန်းများအား ကော်မရှင် ခွင့်ပြုမိန့် ရရှိရေးနှင့် စပ်လျဉ်း၍ အမှတ်(၁) စက်မှု ဝန်ကြီးဌာန၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေး ကော်မတီမှ ဤကော်မရှင်သို့ စိစစ်ထောက်ခံ တင်ပြလျှက်ရှိပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကော်မရှင် ခွင့်ပြုမိန့်ရရှိရန် အောက်ပါမူ/ ဘောင်များနှင့် ညီညွတ်ရန် လိုအပ်ပါသည်။

(က) လုပ်ငန်း ဆောင်ရွက်မည့် မြေနေရာသည် စက်မှုဇုန် (သို့မဟုတ်) စက်မှုလုပ်ငန်းဆောင်ရွက်နိုင်သော ဧရိယာတွင်ရှိရန်၊

(ခ) ရင်းနှီးမြှုပ်နှံမှု ပမာဏသည် နိုင်ငံခြားငွေ အပါအဝင် ကျပ် (၁၀) သန်းနှင့် အထက်ရှိရန်၊

(ဂ) စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများကို ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးက FCEC ၏ စိစစ်ထောက်ခံချက်ရယူပြီးမှ တင်သွင်းရန်၊

(ဃ) ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရန်ကိစ္စမှာ စီးပွားဖြစ် လုပ်ငန်း စတင်သောနေ့မှ စတင်၍ (၃)နှစ် ခွင့်ပြုရန်၊

၃။ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ ထောက်ခံ တင်ပြလာသည့် အောက်ဖော်ပြပါ အထည်ချုပ်လုပ်ငန်း (၅)ခု သည် စက်မှုဇုန်တွင် လုပ်ငန်း ဆောင်ရွက်လျှက်ရှိပါသည်။ (နောက်ဆက်တွဲ-၁)

| ကုမ္ပဏီ အမည် | | တည်နေရာ |
|---|---|---|
| (က) အဥ္စလီသီတာ ကုမ္ပဏီ လီမိတက် | - | ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း။ |

(ခ) အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် - စက်မှုဇုန်(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(ဂ) နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် - စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(ဃ) ထူးထက်မန်နျူဖက်ချာ ကုမ္ပဏီ လီမိတက် - စက်မှုဇုန်(၅)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(င) တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် - စက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

၄။ အထက်ပါ စက်မှုဇုန်တွင် လုပ်ငန်းဆောင်ရွက်လျက်ရှိသည့် ကုမ္ပဏီ (၅)ခုသည် ကော်မရှင်မှ ချမှတ်ထားသော မူ/ဘောင်နှင့် ကိုက်ညီကြောင်း တွေ့ရှိရပါသည်။ ယင်းလုပ်ငန်း(၅)ခုအပေါ် ကော်မရှင်မှ ချမှတ်ထားသော မူ/ဘောင်နှင့် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ တင်ပြချက်များ နှိုင်းယှဉ်၍ ပူးတွဲဇယားဖြင့် တင်ပြအပ်ပါသည်။

၅။ အထက်အပိုဒ် (၃)ပါ ကုမ္ပဏီ (၅)ခုနှင့် စပ်လျဉ်းသည့် တင်ပြချက်များကို (၁၃-၉-၂၀၀၂)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၁/၂၀၀၂) အစည်းအဝေးမှ မူအားဖြင့် သဘောတူသဖြင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြ လမ်းညွှန်မှု ခံယူရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။

၆။ <u>ဆုံးဖြတ်ရန်အချက်</u>

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် မဟုတ်ဘဲ စက်မှုဇုန်တွင် လုပ်ငန်းဆောင်ရွက်လျက်ရှိသော အပိုဒ်(၃)ပါ CMP အထည်ချုပ်လုပ်ငန်း(၅)ခုအား ခွင့်ပြုမိန့်ထုတ်ပေးရန် ကိစ္စကို သဘောတူ-မတူ။

(ခ) အဆိုပါ ကိစ္စကို သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၇။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်</u>

ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

<u>ကုန်သွယ်မှု မူဝါဒကောင်စီ။</u>

ပူးတွဲ

CMP လုပ်ငန်းများအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ချမှတ်ထားသော မူ/ဘောင်နှင့် CMP လက်ခစား လုပ်ငန်းများ စိစစ်ရေးကော်မတီမှ တင်ပြချက်များနှိုင်းယှဉ်ဇယား

| စဉ် | အကြောင်းအရာ | ကော်မရှင်မှ ချမှတ်ထားသော မူဝါဒ | အဥ္စလီသီတာ ကုမ္ပဏီ လီမိတက် | အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် | နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် | ထူးထက်မန်နျူဖက်ချာ ကုမ္ပဏီ လီမိတက် | ဘ်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၁။ | တည်နေရာ | စက်မှုဇုန်(သို့) စက်မှုလုပ်ငန်း ဆောင်ရွက်နိုင်သော ဧရိယာ | အမှတ်(၃၁၄/၃၁၅)၊ မဏ္ဍရာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း။ | အမှတ်(၁၁၁)၊ မင်းကြီးမဟာမင်းခေါင်လမ်း၊ စက်မှုဇုန်(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။ | အမှတ်(၃၂)၊ ဗန်းမော်(?) အတွင်းဝန်လမ်း၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။ | အမှတ်(၄၁)၊ ရွှေရင်အေးဘုရားလမ်း၊ စက်မှုဇုန်(၅)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။ | အမှတ်(၄၁/က)၊ ကနောင်မင်းသားကြီးလမ်း၊ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၂။ | ရင်းနှီးမြှုပ်နှံမှု ပမာဏ | ကျပ်(၁၀)သန်း အနည်းဆုံးရှိရမည်။ | ကျပ် (၈၀) သန်း | ကျပ် (၃၀)သန်း | ကျပ် (၂၃.၄၅)သန်း | ကျပ် (၄၁) သန်း | ကျပ် (၁၀.၅) သန်း |
| ၃။ | စက်ပစ္စည်း | နိုင်ငံခြားမှ တင်သွင်းခြင်း၊ ပြည်တွင်းမှ ဝယ်ယူခြင်း | ပြည်တွင်းဝယ် | ပြည်တွင်းဝယ် | ပြည်တွင်းနှင့် ပြည်ပမှ ဝယ်ယူခြင်း | ပြည်တွင်းဝယ် | ပြည်ပမှ တင်သွင်းခြင်း |

| စဉ် | အကြောင်းအရာ | ကော်မရှင်မှ ချမှတ်ထားသော မူဝါဒ | အဋ္ဌလီသီတာ ကုမ္ပဏီ လီမိတက် | အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် | နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် | ထူးထက်မန်နျူဖက်ချား ကုမ္ပဏီ လီမိတက် | တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၁၁။ | အလုပ်သမား တစ်ယောက် တစ်လ ထုတ်လုပ်မှု နှုန်း | | - T-Shirt, Polo Shirt (3) Doz<br>- Jacket (2) Doz<br>- Pants (1) Doz<br>- Other (4) Doz | - T-Shirt (7) Doz<br>- Polo Shirt (7) Doz | - Polo Shirt (36) Doz<br>- T- Shirt (41) Doz<br>- Pants (36) Doz<br>- Jacket (31) Doz<br>- Coat (4) Doz<br>- Track Suit (374) Set | - Men's Slack (30) Doz<br>- Tee Shirt (5) Doz<br>- Polo Shirt (4) Doz<br>- Tank Top (8) Doz<br>- Jacket (3) Doz | - T-Shirt (45) Doz<br>- Polo Shirt (30) Doz<br>- Coat (7.5) Doz<br>- Jacket (18) Doz<br>- Sport Wear (30) Doz<br>- Ladies Shirt (27 )Doz<br>- Boy Shirt (270) Doz |

## ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီ/သမဝါယမအသင်းများ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | အဋ္ဌလီသီတာ ကုမ္ပဏီ လီမိတက် (မြန်မာ ကုမ္ပဏီ) | ၁။ ဦးအောင်မျိုး (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ် (အီး--၉၂)၊ အက်ဖ်--အမ်--အိုင်မြို့တော်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | ကုမ္ပဏီ မှတ်ပုံတင်အမှတ် ၆၉၀/၁၉၉၈-၉၉ (၂၄-၉-၉၈) | ၂။ ဒေါ်ခင်မိုးမိုး (ဒါရိုက်တာ) | အမှတ် (အီး--၉၂)၊ အက်ဖ်--အမ်--အိုင်မြို့တော်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | စက်မှု/ထုတ်လုပ်မှု/ ဆောက်လုပ်ရေး | ၃။ ဦးအောင်ဖြိုး (ဒါရိုက်တာ) | အမှတ် (အီး--၉၂)၊ အက်ဖ်--အမ်--အိုင်မြို့တော်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးမောင်မောင်သောင်း (ဒါရိုက်တာ) | အမှတ် (အီး--၉၂)၊ အက်ဖ်--အမ်--အိုင်မြို့တော်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |

## ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီ/သမဝါယမအသင်းများ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၂။ | အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက်<br>(မြန်မာ ကုမ္ပဏီ)<br><br>ကုမ္ပဏီ မှတ်ပုံတင်အမှတ် ၂၉၀/၂၀၀၀-၂၀၀၁<br>(၂၉-၅-၂၀၀၀)<br><br>စက်မှု/ထုတ်လုပ်မှု/ ဆောက်လုပ်ရေး | ၁။ ဦးစောကျော်လင်း<br>(အုပ်ချုပ်မှုဒါရိုက်တာ)<br><br>၂။ ဒေါ်နီ<br>(ဒါရိုက်တာ) | အမှတ် (အက်စ်-၁၂)၊ ဓီဇဝါဥယျာဉ်၊ သံသုမာလမ်း၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။<br><br>အမှတ် (အက်စ်-၁၂)၊ ဓီဇဝါဥယျာဉ်၊ သံသုမာလမ်း၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ |

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီ/သမဝါယမအသင်းများ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၃။ | နန်းယာစက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (မြန်မာ ကုမ္ပဏီ ) | ၁။ ဒေါ်သက်သက်မွန် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ် (၄၂/အေ)၊ ပထမထပ်၊ (၄)လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | ကုမ္ပဏီ မှတ်ပုံတင်အမှတ် ၁၂၄၉/၁၉၉၇-၉၈ (၆-၁၁-၉၇) | ၂။ ဦးအောင်စိုး (ဒါရိုက်တာ) | အမှတ် (၄၂/အေ)၊ ပထမထပ်၊ (၄)လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | စက်မှု/ထုတ်လုပ်မှု/ ဆောက်လုပ်ရေး | ၃။ ဦးရီစိုး (ဒါရိုက်တာ) | အမှတ် (၄၂/အေ)၊ ပထမထပ်၊ (၄)လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးညီစိုး (ဒါရိုက်တာ) | အမှတ် (၄၂/အေ)၊ ပထမထပ်၊ (၄)လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၅။ ဒေါ်အုန်းကြည် (ဒါရိုက်တာ) | အမှတ် (၄၂/အေ)၊ ပထမထပ်၊ (၄)လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |

## ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီ/သမဝါယမအသင်းများ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၄။ | ထူးထက်မန်နျူဖက်ချား ကုမ္ပဏီ လီမိတက် (မြန်မာ ကုမ္ပဏီ ) | ၁။ ဦးမိုးဝင်းမောင် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ် (၂)၊ တိုက်(၃)၊ မိုလ်ရာညွှန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | ကုမ္ပဏီ မှတ်ပုံတင်အမှတ် ၆၅၆/၁၉၉၈-၉၉ (၁၁-၉-၉၈) | ၂။ ဒေါ်လဲ့လဲ့ဦး (ဒါရိုက်တာ) | အမှတ် (၂)၊ တိုက်(၃)၊ မိုလ်ရာညွှန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | စက်မှု/ထုတ်လုပ်မှု/ ဆောက်လုပ်ရေး | ၃။ ဦးထူးထက် (ဒါရိုက်တာ) | အမှတ် (၂)၊ တိုက်(၃)၊ မိုလ်ရာညွှန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |

## ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီ/သမဝါယမအသင်းများ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၅။ | တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက်<br>(မြန်မာ ကုမ္ပဏီ)<br><br>ကုမ္ပဏီ မှတ်ပုံတင်အမှတ် ၁၇၂/၁၉၉၃-၉၄<br>(၁-၆-၉၃) | ၁။ ဦးဖေဝင်း<br>(အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ် (၄)၊ အကွက် (၅၃)၊ ပြည်လုံးချမ်းသာရပ်၊<br>အောင်မြေသာစံမြို့နယ်၊ မန္တလေးမြို့။ |
| | | ၂။ ဒေါ်လင်းလင်းမြင့်(ခ) ဒေါ်ခင်ဝင်းကြည်<br>(ဒါရိုက်တာ) | အမှတ် (၄)၊ အကွက် (၅၈၂)၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့။ |
| | | ၃။ ဦးမြင့်နိုင်<br>(ဒါရိုက်တာ) | အမှတ် (၂၂)၊ ရွှေပေါင်တန်းလမ်း၊ လမ်းမတော်မြို့နယ်၊<br>ရန်ကုန်မြို့။ |
| | | ၄။ ဒေါ်အေးနန်း(ခ) ပေကြင်<br>(ဒါရိုက်တာ) | အမှတ် (၁၄၄)၊ ဦးတရုတ်ကြီးလမ်း၊ စက်မှုဇုန်(၄)၊<br>လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။ |

ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# အဉ္ဇလိသီတာ ကုမ္ပဏီ လိမိတက်

(လုပ်ငန်းအဟောင်း)

☆☆☆☆☆☆☆☆☆☆☆☆☆☆

**PROPOSAL OF THE INVESTOR TO MAKE**

**MYANMAR CITIZENS INVESTMENT IN THE**

**UNION OF MYANMAR**

## INZALI THIDAR CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စု မြန်မာနိုင်ငံတော်

ရက်စွဲ။ ၂၀၀၂ ခုနှစ်၊ ဒီဇင်ဘာလ( ၅ ) ရက်

အကြောင်းအရာ ။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးပါရန် ပေးပို့ခြင်း။</u>

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော် **INZALI THIDAR CO., LTD.** အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်သည့် အလုပ်ရုံ တည်ဆောက်ပြီး၊ အခစား ချုပ်လုပ်မှုစနစ် **(Cutting, Making & Packaging System) C.M.P** စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်နိုင်ရန်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာများပေးပို့အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးအောင်မျိုး
( အုပ်ချုပ်မှုဒါရိုက်တာ )
**INZALI THIDAR CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စု မြန်မာနိုင်ငံတော်

ရက်စွဲ။ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ( ၁၁ ) ရက်

အကြောင်းအရာ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးပါရန် ပေးပို့ခြင်း။</u>

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော် **INZALI THIDAR CO., LTD.** အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်သည့် အလုပ်ရုံ တည်ဆောက်ပြီး၊ အခစား ချုပ်လုပ်မှုစနစ် (**Cutting, Making & Packaging System**) **C.M.P** စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်နိုင်ရန်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ပါရန် အတွက် အဆိုပြုလွှာ (၆)စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးအောင်မျိုး
( အုပ်ချုပ်မှုဒါရိုက်တာ )
INZALI THIDAR CO., LTD.

11.11.02

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စု မြန်မာနိုင်ငံတော်

ရက်စွဲ။ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ (၁၁) ရက်

အကြောင်းအရာ ။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်များ ပေးပို့ခြင်း။</u>

၁။ အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ **INZALI THIDAR CO., LTD.** အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်သည့် အခစား ချုပ်လုပ်မှု စနစ် **(Cutting, Making & Packaging System)** ဖြင့် လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်းနှင့် အောက်ပါ အချက်များကို သိရှိလိုက်နာမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(၁) ကျွန်တော်တို့ ကုမ္ပဏီ အနေဖြင့် လုပ်ငန်း ဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် မီးဘေး ကြိုတင်ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၂) ထို့အပြင် နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဟု ဝန်ခံကတိပြုပါသည်။

(၃) ဤအဆိုပြု လုပ်ငန်းများ ဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ်/မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၄) ယင်းသို့ ပေးသွင်းထားရှိသည့် နိုင်ငံခြားငွေများကို နိုင်ငံတော်မှ သတ်မှတ်ခွင့်ပြုထားသည့် ငွေလဲလှယ်ရေးဌာန **(Foreign Exchange Counter)** တွင် လဲလှယ်ပြီး မိမိလုပ်ငန်းအတွက် အလုပ်သမားများ၏ လုပ်ခများအား ပေးဆောင်ရမည်ကို သိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

ဦးအောင်မျိုး

( အုပ်ချုပ်မှုဒါရိုက်တာ )

**INZALI THIDAR CO., LTD.**

သို့

ဥက္ကဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စု မြန်မာနိုင်ငံတော်

ရက်စွဲ။ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ( ၁၁ ) ရက်

အကြောင်းအရာ ။ ပြည်ထောင်စု မြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃-တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် ပတ်သက်၍ ကျွန်တော်တို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **INZALI THIDAR CO., LTD.** သည် ရန်ကုန်တိုင်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံ စက်မှုဇုံ၊ မြေတိုင်းရပ်ကွက်အမှတ် (၁၉/၁)၊ မြေကွက်အမှတ် (၃၁၄+၃၁၅)၊ မြေအကျယ်အဝန်း (၀.၆၈၄)ဧက ရှိသော မြေနေရာတွင် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်သည့် အလုပ်ရုံတည်ထောက်ပြီး အခစား ချုပ်လုပ်မှုစနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်၍ နိုင်ငံခြားသို့ ပြန်လည်တင်ပို့ပြီး၊ နိုင်ငံခြားငွေရရှိရန် ခေတ်မီ နည်းပညာ၊ စက်ကိရိယာများဖြင့် ပြုလုပ်ခွင့်ရရှိရန် ရည်ရွယ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီ လီမိတက်သည် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း အတွက် လိုအပ်မည့် စက်ကိရိယာများကို ပြည်တွင်းမှဝယ်ယူပြီး၊ အရင်းအနှီးအဖြစ် ထည့်ထားပါသည်။

၃။ ကျွန်တော်တို့၏ ကုမ္ပဏီ လီမိတက် အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် မတည်ရင်းနှီးငွေ စုစုပေါင်း ကျပ် သန်းပေါင်း (၇၉)သန်းကို မြန်မာကျပ်ငွေ၊ စက်ပစ္စည်းများဖြင့် ထည့်ဝင်ပြီး၊ ရင်းနှီးမြှုပ်နှံကြမည် ဖြစ်ပါသည်။ ချုပ်လုပ်ဖြန့်ဖြူး ရောင်းချ၍ ရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြား ခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည် ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။ ချုပ်လုပ်ရရှိလာသော ကမ္ဘာ့အဆင့်အတန်းမီ အဝတ်အထည် အမျိုးမျိုးကို နိုင်ငံခြားသို့ တင်ပို့မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရန်အတွက်လည်းကောင်း၊ စက်မှုနည်းပညာ တိုးပွားရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်းအလို့အငှာလည်းကောင်း၊ ကျွန်တော်တို့ **INZALI THIDAR CO., LTD.** ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်များနှင့် သက်သာခွင့်များကိုလည်း ပေးပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားတင်ပြအပ်ပါသည်။

၅။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းများကို ပူးတွဲ တင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ-ပုံစံ)၊

(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(၃) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ (မူကြမ်း)၊

(၄) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ - စသည်တို့ ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

ဦးအောင်မျိုး

( အုပ်ချုပ်မှုဒါရိုက်တာ )

**INZALI THIDAR CO., LTD.**

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ – ၁)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

(ဥပဒေ ပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ၊
ရက်စွဲ။ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ (၁၁) ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပါရန် အောက်ပါအချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ –

| | | |
|---|---|---|
| (က) | အမည် | ဦးအောင်မျိုး |
| (ခ) | အဖအမည် | ဦးသောင်း |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၉/ဝတန(နိုင်) ဝ၅၈၇၄၄ |
| (ဃ) | နေရပ်လိပ်စာ | အမှတ် (အီး – ၉၂)၊ အက်(ဖ်)–အမ်–အိုင် စီးတီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ ဘာသာ | ဗမာ/ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | INZALI THIDAR CO., LTD. |
| (ဆ) | လုပ်ငန်းအမျိုးအစား | အထည်ချုပ်လုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | ရန်ကုန်တိုင်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံ စက်မှုဇုံ၊ မြေတိုင်း ရပ်ကွက်အမှတ် (၁၉/၁)၊ မြေကွက်အမှတ် (၃၁၄+၃၁၅)၊ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုမည့်သူများ၏ –

(က) အမည် – ..........

(ခ) အဖအမည် – ..........

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် – ..........

(ဃ) နေရပ်လိပ်စာ – ..........

(င) လူမျိုး၊ ဘာသာ – ..........

(စ) အဖွဲ့အစည်းအမည် – ..........

(ဆ) လုပ်ငန်းအမျိုးအစား – ..........

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် – ..........

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း – **C.M.P** စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း။

(ခ) ဝန်ဆောင်မှုလုပ်ငန်း – ..........

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ –

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း – ..........

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း – ..........

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း – ..........

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်း ပုံသဏ္ဍာန် –

(က) တစ်ဦးတည်းပိုင် – ..........

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း - ..................................................

(ဂ) လီမိတက် ကုမ္ပဏီ - INZALI THIDAR CO., LTD.
နောက်ဆက်တွဲဇယား (၁)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်း ဖြစ်ပါက -

(က) အစုဝင်တိုက ထည့်ဝင်မည့် အစုငွေ အမျိုးအစားနှင့် ပမာဏ - ..................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား - ..................................................

(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ - ..................................................

၇။ သမဝါယမအသင်း/လီမိတက် ကုမ္ပဏီ ဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၅၀,၀၀၀,၀၀၀ (ကျပ်သန်း ငါးဆယ်တိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ် ၁၀,၀၀၀/- (ကျပ်တစ်သောင်းတိတိ)တန် သာမန်အစုရှယ်ယာ ၅,၀၀၀ (ငါးထောင်)

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ကျပ် ၇၉,၀၀၀,၀၀၀/- (ကျပ်ခုနစ်ဆယ်ကိုးသန်းတိတိ ) တစ်စုလျှင် ကျပ် ၁၀,၀၀၀ (ကျပ်တစ်သောင်း တိတိ) တန် အစုရှယ်ယာ ၇၉၀၀ (ခုနစ်ထောင့်ကိုးရာ) သာမန် အစုရှယ်ယာ

(ခွင့်ပြုမိန့် ရရှိပြီး ဖြစ်ပါက ခွင့်ပြု မတည်ငွေရင်းကို တိုးမြှင့်သွားမည် ဖြစ်ပါသည်)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

| (က) မတည်ငွေရင်းပမာဏ (ယခုအဆိုပြုလုပ်ငန်းအတွက်) | ကျပ် (ထောင်) | အမေရိကန် ဒေါ်လာ(ထောင်) | စုစုပေါင်း ကျပ်(ထောင်) |
|---|---|---|---|
| (၁) ငွေပမာဏ | ၃၆၂၀ | - | ၃၆၂၀ |
| (၂) ကုန်ကြမ်း | - | | - |
| (၃) အဆောက်အဦး (နောက်ဆက်တွဲဇယား-၂) | ၈၀၀၀ | - | ၈၀၀၀ |
| (၄) မြေ | ၆၂၀၀ | - | ၆၂၀၀ |
| (၅) စက်ပစ္စည်း ကိရိယာများ (နောက်ဆက်တွဲဇယား-၃) | ၆၁၁၈၀ | - | ၆၁၁၈၀ |
| စုစုပေါင်း | ၇၉၀၀၀ | - | ၇၉၀၀၀ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်
(၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး -
(၂) ဆောက်လုပ်ရေး ပစ္စည်းများ
(၃) ကျွမ်းကျင်မှုနည်းပညာရပ်၏ တန်ဖိုးပမာဏ

စုစုပေါင်း

(ဂ) တည်ဆောက်မှုကာလ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ

(င) တည်ဆောက်မှုစတင်မည့်အချိန်

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ -

| | | |
|---|---|---|
| (က) လုပ်ငန်းအမျိုးအစား | - | C.M.P စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း။ |
| (ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ | - | ရန်ကုန်တိုင်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုံ၊ မြေတိုင်း ရပ်ကွက် အမှတ် (၁၉/၁)၊ မြေကွက် အမှတ် (၃၁၄+၃၁၅)၊ |
| (ဂ) ဆောင်ရွက်ပုံနည်းစနစ် | - | အခစားချုပ်လုပ်မှုစနစ် **(Cutting, Making & Packaging System) C.M.P** |

(ဃ) နှစ်စဉ် စက်သုံးဆီ လိုအပ်ချက် -

| | | |
|---|---|---|
| ၁။ ဒီဇယ်ဆီ | - | ဂါလံ (၅၀၀၀) |
| ၂။ ဓါတ်ဆီ | - | ဂါလံ (၂၀၀၀) |
| ၃။ စက်ဆီ၊ ချောဆီ | - | ဂါလံ (၂၀၀) |

(င) နှစ်စဉ် စက်သုံးဆီ လိုအပ်ချက် -

| | | |
|---|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | - | ၂၅၀ ကီလိုဝပ် |
| ၂။ ဒီဇယ်ဆီ အင်ဂျင်စက်အား | - | ၉၀ KVA |

၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား -
၄။ သဘာဝဓါတ်ငွေ့သုံးစက်အား -
၅။ ပေးပို့သည့် အခြားအား -
(ရေအား/လေအား စသည်များ)

(စ) နှစ်စဉ် ရေလိုအပ်ချက် -
၁။ တစ်နေ့ရေလိုအပ်ချက်ဂါလံ - ( ၁၀၀၀) ဂါလံ
၂။ တစ်နှစ်ရေလိုအပ်ချက် - (၃၀၀၀၀၀) ဂါလံ

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် - နောက်ဆက်တွဲဇယား(၄)

(ဇ) အဆောက်အအုံ လိုအပ်ချက် - နောက်ဆက်တွဲဇယား(၂)

(ဈ) မြေနေရာ အမျိုးအစားနှင့် အကျယ်အဝန်း - ပုဂ္ဂလိကပိုင်စက်မှုမြေ (၀.၆၈၄)ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဆောင်ရွက်မည့် ဝန်ဆောင်မှု - နောက်ဆက်တွဲဇယား(၅)

(ဋ) ရောင်းချမည့်စနစ် - ပြည်ပတင်ပို့ ရောင်းချမှု (၉၉)% ပြည်တွင်းကျပ်ငွေဖြင့် ရောင်းချမှု (၁)%

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား - (၆) | |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား - (၈) | |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - (၅) | |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား - (၅) | |
| (င) နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့်ကုန်ပစ္စည်း ဝန်ဆောင်မှု တန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား - (၅) | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှလိုအပ်မည့် အမှုထမ်းများ - နောက်ဆက်တွဲဇယား - (၇)
(ခ) နိုင်ငံခြားမှလိုအပ်မည့် ကျွမ်းကျင်သူနှင့် အတက်ပညာရှင်များ - နောက်ဆက်တွဲဇယား - (၇)

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ –

| | ခန့်မှန်းခြေ ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) နှစ်စဉ် ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား – (၈) | |
| (ခ) နှစ်စဉ်လုပ်ငန်း ကုန်ကျစရိတ် | နောက်ဆက်တွဲဇယား – (၈) | |
| (ဂ) နှစ်စဉ် အသားတင်အမြတ် | နောက်ဆက်တွဲဇယား – (၈) | |
| (ဃ) နှစ်စဉ်အလိုက် ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား – (၉) | |
| (င) အရင်းကျေကာလ | နောက်ဆက်တွဲဇယား – (၁၀) | |
| (စ) အခြား အကျိုးအမြတ်များ | နောက်ဆက်တွဲဇယား – (၁၁) | |
| (ဆ) အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | နောက်ဆက်တွဲဇယား – (၇) | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ် မူကြမ်း (လိုအပ်သည့် ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း / ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

(လျှောက်ထားသူ)

လက်မှတ်၊ [signature]

အမည်၊ ဦးအောင်မျိုး

ရာထူး၊ (အုပ်ချုပ်မှုဒါရိုက်တာ)

INZALI THIDAR CO., LTD.

# INZALI THIDAR CO., LTD.

## List of Executive

Exhibit No. I

| Sr. No. | Name | Citizenship N.R.C. No. Passport No. | Designation | Address | Amt. of Capital | % |
|---|---|---|---|---|---|---|
| | အင်္ဇလီသီတာ ကုမ္ပဏီ လီမိတက်ကို ကိုယ်စားပြုသူများ | | | | ကျပ် (၇၉)သန်း | ၁၀၀% |
| ၁။ | ဦးအောင်မျိုး | ၉/ဝတန(နိုင်) ၁၅၈၇၄၄ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(အိမ်း-၉၂)၊ အက်ဖ်-အမ်-အိုင် စီးတီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၂။ | ဒေါ်ခင်မိုးမိုး | MGE-၁၄၅၂၆၃ | ဒါရိုက်တာ | အမှတ်(အိမ်း-၉၂)၊ အက်ဖ်-အမ်-အိုင် စီးတီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၃။ | ဦးအောင်ဖြိုး | WDN-၁၇၄၃၄၉ | ဒါရိုက်တာ | အမှတ်(အိမ်း-၉၂)၊ အက်ဖ်-အမ်-အိုင် စီးတီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၄။ | ဦးမောင်မောင်သောင်း | WDN-၀၉၄၂၉၁ | ဒါရိုက်တာ | အမှတ်(အိမ်း-၉၂)၊ အက်ဖ်-အမ်-အိုင် စီးတီး၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| | | | | စုစုပေါင်း ရင်းနှီးငွေ | ကျပ် (၇၉)သန်း | ၁၀၀% |

## INZALI THIDAR CO., LTD.

**Factory Buildings**

Exhibit No. II

| Sr. No. | Description | Dimension | No. of Building |
|---|---|---|---|
| A. | **အဆောက်အအုံများ** | | |
| 1. | ပင်မစက်ရုံ | 298′ x 100′ | 1 No. |

မှတ်ချက်။ ။ အဆောက်အဦးအကျယ်အတွက် ဖော်ပြခြင်း ဖြစ်ပါသည်။

